ကုမ္ပဏီအမည် - Titeline Valentis Ltd.

လုပ်ငန်း - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Providing of Drilling Services to the Mining Industry (ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော် စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း) ကို ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြည်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အတွက် လမ်းညွှန်မှုခံယူတင်ပြလာခြင်း | ၁၉-၉-၂၀၁၅ | | |
| ၂ | သတ္တုတွင်းဝန်ကြီးဌာနသို့သဘောထားမှတ်ချက် တောင်းခံခြင်း | ၁၉-၉-၂၀၁၅ | ၆-၁၀-၂၀၁၅ | |
| ၃ | အဆိုပြုလွှာလက်ခံစိစစ်ခြင်း | ၁၁-၁၁-၂၀၁၅ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၄၂/၂၀၁၅ သို့တင်ပြခြင်း | ၁၆-၁၁-၂၀၁၅ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၃၀-၁၁-၂၀၁၅ | | |
| ၆ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၈-၁၁-၂၀၁၅ | ၃-၁၂-၂၀၁၅ | |
| | (ခ) မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၈-၁၁-၂၀၁၅ | ၁၈-၁-၂၀၁၆ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၈-၁၁-၂၀၁၅ | ၂-၁၂-၂၀၁၅ | |
| | (ဃ) မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ | ၁၈-၁၁-၂၀၁၅ | ၁-၁၂-၂၀၁၅ | |
| ၇ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များ အရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၇-၁၂-၂၀၁၅ | | |
| ၈ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၆-၁-၂၀၁၆ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း (၃/၂၀၁၆)MIC | (၃၀-၁-၂၀၁၆) | | |
| | **စုစုပေါင်းကြာမြင့်ရက် ၇၉ ရက်** | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | Titeline Valentis Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | **Providing of Drilling Services to the Mining Industry (ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုစမ်းသပ်ရှာဖွေခြင်း၊ သတ္တုတူးဖော်ခြင်းဆိုင်ရာ လုပ်ငန်းအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ)** |
| တည်နေရာ | ရုံးခန်းနေရာ - ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်မြို့နယ် ၊ လှိုင်ရတနာအိမ်ရာ၊ သဇင် (၁)လမ်း၊ အမှတ် C4 ရှိ မြေ ၀.၁၀၃ ဧက<br>မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာဇံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် A-၁-က၊ မြေကွက်အမှတ် ၃ ရှိ မြေ ၀.၃၂၁၈ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန် ဒေါ်လာ ၂၆.၇၄ သန်း |
| လုပ်ငန်းသက်တမ်း | ၁၀ နှစ် |
| အရင်းကြေကာလ | ၈ နှစ် |
| IRR | ၁၇ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost & Benefit** ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| **စဉ်** | **အကြောင်းအရာ** | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀ သန်း (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၂၀ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၄.၀၆ သန်း | ကျပ် ၁၆၂၇.၁၅ သန်း |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၃၂၅.၀၀ သန်း | ကျပ် ၁၁၈၂.၈၁ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ကျပ် ၉၇၇.၆၂ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၂၀) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၄၉) ဦး |
| ၈ | CSR (၂%) | - | ကျပ် ၃၇၃.၇၅ သန်း |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | - | ပြည်တွင်း လုပ်သား (၄၆) ဦး<br>ပြည်ပ ၃ ဦး<br>အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၁၃၄၂.၆ သန်း | ကျပ် ၄၁၆၂.၅၃ သန်း |
| | | ၁း ၄ | |

အကြောင်းအရာ။ **Titeline Valentis Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Providing of Drilling Services to the Mining Industry (ခေတ်မီစက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Titeline Valentis Ltd. |
| | လုပ်ငန်းအဆိုပြုသူအမည် | - Mr. Michael Bui Phin |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - **Providing of Drilling Services to the Mining Industry (ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့်ဝန်ဆောင်မှုလုပ်ငန်း)** |
| ၂။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရုံးခန်းနေရာ - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ် ၊ လှိုင်ရတနာအိမ်ရာ၊ သဇင် (၁) လမ်း၊ အမှတ် C4 ရှိ မြေ ၀.၁၀၃ ဧက<br>- မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာဇံမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ် A-၁-က၊ မြေကွက်အမှတ် ၃ ရှိ မြေ ၀.၃၂၁၈ ဧက |
| ၃။ | နှစ်စဉ် (ရုံးခန်း) ငှားရမ်းခ | - တစ်လလျှင် ကျပ် ၂.၆၀ သန်း |
| | နှစ်စဉ်မြေငှားရမ်းခ | - တစ်လလျှင် ကျပ် ၀.၆၅ သန်း |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၁၀ နှစ် |
| ၅။ | တည်ဆောက်ရေးကာလ | - (၂) နှစ် |
| ၆။ | ရင်းနှီးမြှုပ်နှံမှုပမာဏ<br>**(စုစုပေါင်း US$ ၂၆.၇၄ သန်း )** | **US$ (သန်း)**<br>- ငွေပမာဏ ၁.၉၀<br>- စက်ပစ္စည်း ၂၄.၈၄<br>- **စုစုပေါင်း ၂၆.၇၄**<br>စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု အမေရိကန်ဒေါ်လာ ၂၆.၇၄ သန်း တွင် ဩစတြေးလျနိုင်ငံ Titeline Drilling Pty Ltd/ Titeline Drilling International Pty Ltd. မှ Titeline Valentis Ltd. သို့ အတိုးနှုန်း ၅ % ဖြင့် ချေးငွေ အမေရိကန်ဒေါ်လာ ၁၈.၀၀ သန်းပါဝင်ပါသည်။ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ပြည်တွင်း ၄၆ ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၄၂၀၊ အမြင့်ဆုံး လစာမှာ US$ ၄,၁၇၀ ဖြစ်ပါသည်။)<br>- ပြည်ပ ၃ ဦး (တစ်လလျှင်ပြည်ပဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၁,၀၀၀ ၊ အမြင့်ဆုံး လစာမှာ US$ ၈,၃၃၀ ဖြစ်ပါသည်။) |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမနှစ်)<br>အသုံးစရိတ် (ဆဌမနှစ်)<br>အသားတင်အမြတ် (ဆဌမနှစ်) | - US$ ၂၁.၆၄ သန်း<br>- US$ ၁၈.၉၉ သန်း<br>- US$ ၂.၆၅ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်(ဆဌမနှစ်)<br>ကုန်သွယ်လုပ်ငန်းခွန်<br>ဝင်ငွေခွန် | <br>- US$ ၁.၀၈ သန်း<br>- US$ ၀.၈၈ သန်း |
| ၁၀။ | အရင်းကြေကာလ | - ၈ နှစ် |
| ၁၁။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၇ % |
| ၁၂။ | ငွေကြေးအထောက်အထား | - Valentis Group Limited အမည်ဖြင့် ကမ္ဘောဇဘဏ် Inernational Bankin g Division Branch ၌ (၂၈-၈-၂၀၁၅) နေ့စွဲရှိ လက်ကျန်ငွေ အမေရိကန်ဒေါ်လာ (၂၇,၉၀၇.၁၈) ရှိကြောင်းနှင့် Titeline Myanmar Pty Ltd. အမည်ဖြင့် Westpac Australia's First Bank ၌ (၁၉-၂-၂၀၁၅) ရက်စွဲဖြင့် AUD$ ၁၀၀,၀၀၀.၀၀ (အမေရိကန်ဒေါ်လာ ၇၀၆၄၃.၂၈) ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို CSR လုပ်ငန်းများ အတွက်အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၄။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၅။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် | - ကုမ္ပဏီမှ EIA အစီအစဉ် ရေးဆွဲတင်ပြထားပြီး၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင် ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၆။ | အခြားတင်ပြချက်များ | - Titeline Myanmar Pty Ltd.၊ Valentis Group Ltd. နှင့် Titeline Valentis Ltd. တို့၏ ကုမ္ပဏီမှတ်ပုံတင်(မိတ္တူ)၊ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်း(မိတ္တူ)နှင့် ဒါရိုက်တာစာရင်းတို့ကို တင်ပြထားပါသည်။<br>- Titeline Myanmar Pty Ltd. ၏ ပင်မကုမ္ပဏီဖြစ်သော Titeline Drilling Pty Ltd/Titeline Drilling International Pty Ltd. နှင့် Titeline Valentis Ltd. တို့ ချုပ်ဆိုမည့်ချေးငွေစာချုပ်(မူကြမ်း) နှင့် ချေးငွေ ပြန်လည်ပေးဆပ်မည့် အစီအစဉ်တို့ကိုတင်ပြထားပါသည်။ |
| ၁၇။ | **စိစစ်တင်ပြချက်** | (က) Titeline Myanmar Pty Ltd. သည် ဩစတြေးလျနိုင်ငံ၌ ၂၀၀၇ ခုနှစ်တွင်ဖွဲ့စည်းမှတ်ပုံတင်၍ ဩစတြေးလျ၊ ပါပူဝါနယူးဂီနီ၊ မွန်ဂိုလီးယား၊ ဖီဂျီ နှင့် အင်ဒိုနီးရှားနိုင်ငံ တို့တွင် Exploration Drilling Compnay အဖြစ်လုပ်ငန်းဆောင်ရွက်လျက်ရှိကြောင်း၊ Valentis Group Limited ကို ၂၀၁၅ ခုနှစ်တွင် မြန်မာနိုင်ငံ၌ Mining Services Company အဖြစ်ဖွဲ့စည်းမှတ်ပုံတင်ခဲ့ပြီး Geological exploration and surveys, opportunity sourcing, performance improvement and transaction management လုပ်ငန်းများဆောင်ရွက်လျက်ရှိကြောင်းတင်ပြထားပါသည်။<br>(ခ) Titeline Valentis Limited ကို မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေအရ ကုမ္ပဏီမှတ်ပုံတင်အမှတ် ၁၁၉၃ FC/၁၄-၁၅ ဖြင့် (၅-၃-၂၀၁၅) ရက်နေ့တွင် ယာယီဖွဲ့စည်းမှတ်ပုံတင်ခဲ့ပြီး ကုမ္ပဏီသည် ခေတ်မီစက် ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ကြောင်းစိစစ်ရပါသည်။<br>(ဂ) Providing of Drilling Services to the Mining Industry (ခေတ်မီစက်ယန္တရားများကို အသုံးပြု၍ သတ္တုစမ်းသပ်ရှာဖွေခြင်း၊ ထုတ်လုပ်ခြင်း သတ္တုတူးဖော်ခြင်းဆိုင်ရာ |

| | | |
|---|---|---|
| | | လုပ်ငန်းအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ) ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုတင်ပြလာခြင်း နှင့်စပ်လျဉ်း၍ သတ္တုတွင်းဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ သတ္တုတွင်းဝန်ကြီးဌာနမှ သတ္တုဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။<br>(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ၁၄ရက်နေ့ပါအမိန့်ကြော်ငြာစာအမှတ်၄၉/၂၀၁၄ အရ Providing of Drilling Services to the Mining Industry (ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော် စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း) သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်မပြုသည့်စီးပွားရေး လုပ်ငန်းအမျိုးအစားစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားစာရင်းတွင် ပါဝင်ခြင်း မရှိကြောင်းနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၅၁/၂၀၁၄ အရ အကောက်ခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်မပေးသော လုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိကြောင်း စိစစ်ရပါသည်။<br>(င) ပြည်ပမှ အမေရိကန်ဒေါ်လာ (၂၆.၇၄၄) သန်း တန်ဖိုးရှိ စက်ပစ္စည်းများ နှင့် အမေရိကန်ဒေါ်လာ (၅၀.၂၁၀) သန်း တန်ဖိုးရှိ Consumables/Spare Parts များအား တင်သွင်းမည်ဖြစ်ပါသည်။<br>(စ) ကုမ္ပဏီအနေဖြင့် တည်ဆောက်ရေးကာလ (၂)နှစ် အတွင်း တင်သွင်းမည့် အမေရိကန်ဒေါ်လာ ၁.၆၇၉ သန်း တန်ဖိုးရှိ ယာဉ်ယန္တရားနှင့် စက်ပစ္စည်းများ အတွက်သာ အကောက်ခွန်ကင်းလွတ်ခွင့် ခံစားနိုင်မည်ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။ |

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Titeline Valentis Ltd. | Valentis Group Ltd. (Myanmar) Representative By | |
| | | (၁) Mr. Michael Phin Director Australian N2037497 | 6 Yangalla Street, Marsfield Sydney NSW 2122, Australia. အမှတ် C4၊ သဇင်(၁) လမ်း၊ လှိုင်ရတနာအိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | Titeline Myanmar Pty Ltd. (Australia) | |
| | | (၂) Mr. William Robert Ricciardi Director Australian N9387185 | 7 Botanic Drive, BALLARAT NORTH VIC, Australia. အမှတ် C4၊ သဇင်(၁) လမ်း၊ လှိုင်ရတနာအိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉- ၂၅၀၆၈၄၈၃၃

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ် C4၊ သဇင်(၁) လမ်း၊ လှိုင်ရတနာအိမ်ရာ၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - Mr. Michael Phin (Director)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - **Providing of Drilling Services to the Mining Industry (ခေတ်မီစက် ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း)**

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - 1193FC/2014-2015(5-3-2015)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - 4-3-2020

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၅ (အ) / ၀၀၈/ ၂၀၁၆ (၀၄၁)

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီ လ ၂၇ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **Titeline Valentis Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Providing of Drilling Services to the Mining Industry (ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်း ဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှု လုပ်ငန်း) ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ သြစတြေးလျနိုင်ငံ Titeline Myanmar Pty Ltd. မှ ၇၀% နှင့် မြန်မာနိုင်ငံ Valentis Group Limited မှ ၃၀% ဖြင့် မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Titeline Valentis Limited တည်ထောင်ကာ ရုံးခန်းနေရာအတွက် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ် ၊ လှိုင်ရတနာအိမ်ရာ၊ သဇင် (၁) လမ်း၊ အမှတ် C4 ၊ မြေ ဧရိယာ ၀.၁၀၃ ဧက (၄၁၆.၈၃ စတုရန်းမီတာ) ရှိ အဆောက်အဦ နှင့် စက်ယန္တရားများ ထားရှိရန်အတွက် မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာဇံမြို့နယ်၊ မြေတိုင်းရပ်ကွက် အမှတ် A-၁-က၊ မြေကွက်အမှတ် ၃ ရှိ မြေ ၀.၃၂၁၈ ဧက (၁၃၀၂.၂၈ စတုရန်းမီတာ)အား ငှားရမ်း၍ Providing of Drilling Services to the Mining Industry (ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော် စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း) အား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေငှားစာချုပ်(မူကြမ်း)များ၊ မြေပိုင်ဆိုင်မှု အထောက်အထားများ၊ ချေးငွေစာချုပ်(မူကြမ်း)နှင့်ချေးငွေပြန်လည်ပေးဆပ်မည့်အစီအစဉ်၊ ကုမ္ပဏီ(ယာယီ) မှတ်ပုံတင် လက်မှတ်မိတ္တူ၊ ဒါရိုက်တာစာရင်း၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်းတို့အား တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ ၂၆.၇၄ သန်း ဖြစ်၍ သြစတြေးလျနိုင်ငံ Titeline Drilling Pty Ltd/ Titeline Drilling International Pty Ltd. မှ Titeline Valentis Co., Ltd. သို့ အတိုးနှုန်း ၅ % ဖြင့် ချေးငွေ အမေရိကန်ဒေါ်လာ ၁၈.၀၀ သန်း ပါဝင်ပါသည်။ အမေရိကန်ဒေါ်လာ ၂၄.၈၄ သန်း တန်ဖိုးရှိ လုပ်ငန်းသုံး ယာဉ်၊ ယန္တရား၊ စက်ပစ္စည်း များအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါ သည်-

| | **စုစုပေါင်း US$ (သန်း)** |
|---|---|
| (က)ငွေပမာဏ | ၁.၉၀ |
| (ခ) စက်ပစ္စည်းတန်ဖိုး | ၂၄.၈၄ |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | ၂၆.၇၄ |

၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၄၆) ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပြီး ပြည်တွင်းဝန်ထမ်း(၁) ဦး၏ အနိမ့်ဆုံးလစာမှာ US$ (၄၂၀) ဖြစ်၍ အမြင့်ဆုံးလစာ မှာ US$ (၄,၁၇၀) ဖြစ်ပါသည်။ နိုင်ငံခြားသား ကျွမ်းကျင်ပညာရှင် (၃) ဦး ခန့်ထားမည်ဖြစ်၍ ပြည်ပ ဝန်ထမ်း (၁) ဦး၏ အနိမ့်ဆုံးလစာမှာ US$ (၁,၀၀၀) ဖြစ်၍ အမြင့်ဆုံးလစာ မှာ US$ (၈,၃၃၀) ဖြစ်ပါသည်။

၅။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး ၁၀ နှစ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပြီး၊ ကော်မရှင်ခွင့်ပြုမိန့်ရရှိသည့်နေ့တွင် လုပ်ငန်းစတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် နိုင်ငံတော်မှရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ကုန်သွယ်လုပ်ငန်းခွန် | US$(သန်း) | ၁.၀၈ |
| (ခ) ဝင်ငွေခွန် | US$(သန်း) | ၀.၈၈ |

၇။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈) နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ် နှုန်း (IRR) မှာ ၁၇ ရာခိုင်နှုန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁,၂၀၀ ကျပ်နှုန်း ဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် ဝင်ငွေ၊ အသုံးစရိတ် နှင့် အသားတင်အမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ = ၁,၂၀၀ ကျပ်**

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၁.၆၄ |
| (ခ) | အသုံးစရိတ် | ၁၈.၉၉ |
| (ဂ) | အသားတင်အမြတ် | ၂.၆၅ |

၉။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘော ထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-က)**

ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်မှုမရှိကြောင်း၊ ပြည်တွင်းလုပ်သားအင်အား (၄၆)ဦး အလုပ်အကိုင်ရရှိမည်ဖြစ် သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ အဆိုပြုလုပ်ငန်း လုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ လှိုင်ရတနာအိမ်ရာ၊ သဇင်(၁)လမ်း၊ အမှတ် C 4 ၊ (၅၅၂၃) စတုရန်းပေ ရှိ အဆောက်အဦအား တစ်နှစ်လျှင် ၁ စတုရန်းမီတာအတွက် (USD ၄၀) နှုန်း ဖြင့် (၁) နှစ် ငှားရမ်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက် နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား

ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟုတင်ပြထားပါကြောင်း နှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၄/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၄)အရ Titeline Valentis Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ-ခ)**

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် ၂၆လမ်း၊ ၅၅ x၅၆ လမ်းကြားတွင် တည်ရှိကာ လူနေရပ်ကွက်အတွင်းပါရှိပြီး မြေဂရန်ထုတ်ပေးထားသည့် မြေနေရာဖြစ်ပါသဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းနှင့် လွတ်ကင်းပြီး မြို့ပြစီမံကိန်းကိုလည်း ထိခိုက်ခြင်းမရှိပါကြောင်း၊ ခေတ်မီစက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာလုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်မည် ဖြစ်ပါသဖြင့် မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထိုက်အလျောက် အထောက်အကူ ဖြစ်နိုင်ပါကြောင်း၊ စက်မှုလုပ်ငန်းရှင်များအနေဖြင့် တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန၏ ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ ဒေသန္တရအမိန့်နှင့် ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဆိုပါက ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိပါကြောင်း (၇-၁-၂၀၁၆) ရက်နေ့တွင်ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁/၂၀၁၆) ဆုံးဖြတ်ချက်အရ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ထိခိုက်စေသည့် ကိစ္စရပ်များမရှိပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ဂ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာအချက် အလက်များပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များ နှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်ထည်ဖော် ဆောင်ရွက်သွားရန်၊

(၂) ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)အား ဒေသတစ်ခုချင်းစီအတွက် သီးခြားစီရေးဆွဲ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနသို့တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်ထည်ဖော်ဆောင်ရွက်ရန်၊

(၃) ဝန်ထမ်းသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး အစီအစဉ်အားထည့်သွင်းရေးဆွဲရန်နှင့် အစီအစဉ်ပါအတိုင်း ဆောင်ရွက်ရန်၊

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

**(ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ သဘာဝပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan) ကို ရေးဆွဲတင်ပြထားပါသည်။)**

(ဃ) **သတ္တုတွင်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ဃ)**

Titeline Valentis Ltd. ၏ အဆိုပြုလုပ်ငန်းအမျိုးအစား ဆောင်ရွက်ခွင့်နှင့်ပတ်သက်၍ မြန်မာ့သတ္တုတွင်း ဥပဒေ၊ နည်းဥပဒေများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(င) **မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ (နောက်ဆက်တွဲ-င)**

အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ချမ်းအေးသာဇံမြို့နယ်၊ ကန်ကောက်ရပ်ကွက် (လူနေရပ်ကွက်အတွင်း) တည်ရှိသဖြင့် စက်ရုံ ဆောက်လုပ်မည်ဆိုပါက ခွင့်မပြုနိုင်ကြောင်း၊ အရောင်းပြခန်း ပြုလုပ်မည်ဆိုပါက ခွင့်ပြုနိုင်ပါကြောင်း နှင့် မန္တလေးမြို့တော်စည်ပင် သာယာရေးကော်မတီမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေများ နှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် Valentis Group Limited အမည်ဖြင့် ကမ္ဘောဇဘဏ် Inernational Banking Division Branch ၌ (၂၈-၈-၂၀၁၅) နေ့စွဲရှိ လက်ကျန်ငွေ အမေရိကန်ဒေါ်လာ (၂၇,၉၀၇.၁၈) ရှိကြောင်းနှင့် Titeline Myanmar Pty Ltd. အမည်ဖြင့် Westpac Australia's First Bank ၌ (၁၉-၂-၂၀၁၅)ရက်စွဲဖြင့် AUD$ ၁၀၀,၀၀၀.၀၀ (အမေရိကန်ဒေါ်လာ ၇၀၆၄၃.၂၈) ရှိကြောင်းတင်ပြထားရာ သုံးစွဲမည့် US$ ၂၆.၇၄ သန်းအတွက် ၀.၃၇ % ရှိကြောင်း စိစစ်ရပါသည်။

၁၁။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် ဝန်ထမ်းများအား မီးသတ်သင်တန်းပေးခြင်း၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေး စီမံချက်နှင့်အညီ မီးသတ်ဆေးဘူးများ၊ သဲအိတ်များ၊ ရေလှောင်ကန်များထားရှိ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ တင်သွင်းမည့်စက်ပစ္စည်းများ၏ နမူနာပုံစံ၊ အလုပ်သမား သက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်မည့်အစီအစဉ်၊ စက်ရုံဝန်ထမ်းများအတွက် လစာဝင်ငွေခွန် ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓာတ်အားသုံးစွဲမှု အစီအမံတို့ကို တင်ပြထားပြီး လူမှု

ဘဝသာယာဝပြောရေး (Corporate Social Responsibility - CSR) အတွက် နှစ်စဉ် အသားတင် အမြတ် ၏ ၂% ထားရှိ ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၃။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် နိုဝင်ဘာ လ ၁၆ နေ့တွင် ကျင်းပပြုလုပ်သော (၄၂/၂၀၁၅)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၄ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ အရ Providing of Drilling Services to the Mining Industry (ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော် စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း)သည် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်မပြုသည့်စီးပွားရေး လုပ်ငန်းအမျိုးအစားစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားစာရင်းတွင် ပါဝင်ခြင်း မရှိကြောင်းနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်နေ့ပါ အမိန့်ကြော်ငြာစာအမှတ် ၅၁/၂၀၁၄ အရ အကောက်ခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်၊ သက်သာခွင့်မပေးသော လုပ်ငန်းများစာရင်းတွင် ပါဝင်ခြင်းမရှိကြောင်း စိစစ်ရပါသည်။

(ခ) ဖက်စပ်ဆောင်ရွက်မည့် Titeline Myanmar Pty Ltd. သည် ဩစတြေးလျနိုင်ငံ၌ ၂၀၀၇ ခုနှစ်တွင်ဖွဲ့စည်းမှတ်ပုံတင်၍ ဩစတြေးလျ၊ ပါပူဝါနယူးဂီနီ၊ မွန်ဂိုလီးယား၊ ဖီဂျီ နှင့် အင်ဒိုနီးရှားနိုင်ငံတို့တွင် Exploration Drilling Company အဖြစ်လုပ်ငန်း ဆောင်ရွက်လျက်ရှိကြောင်း၊ Valentis Group Limited ကို ၂၀၁၅ ခုနှစ်တွင် မြန်မာနိုင်ငံ၌ Mining Services Company အဖြစ်ယာယီဖွဲ့စည်းမှတ်ပုံတင်ခဲ့ပြီး Geological exploration and surveys, Opportunity sourcing, Performance improvement and transaction management လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

(ဂ) Titeline Valentis Limited ကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ အရ (၅-၃-၂၀၁၅) ရက်နေ့ တွင် ယာယီဖွဲ့စည်းမှတ်ပုံတင်ခဲ့ပြီး ကုမ္ပဏီသည် ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများအား ပြည်ပမှ အမေရိကန်ဒေါ်လာ (၂၆.၇၄၄) သန်း တန်ဖိုးရှိ ယာဉ်ယန္တရား၊ စက်ပစ္စည်းများနှင့် အမေရိကန်ဒေါ်လာ (၅၀.၂၁၀) သန်းတန်ဖိုးရှိ Consumables/Spare Parts များအား တင်သွင်းဆောင်ရွက်မည်ဖြစ်ကြောင်း စိစစ်ရပါသည်။

(ဃ) Titeline Valentis Limited မှ အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုကာလသက်တမ်းတစ်လျှောက် နှစ်အလိုက် တင်သွင်းရန် လိုအပ်သည့် စက်ယန္တရားများနှင့် Consumables/Spare Parts များအား တင်ပြထားပြီး ကုမ္ပဏီအနေဖြင့် တည်ဆောက်ရေးကာလ (၂)နှစ်အတွင်းတင်သွင်းမည့် အမေရိကန်ဒေါ်လာ ၁.၆၇၉ သန်းတန်ဖိုးရှိ ယာဉ်ယန္တရားနှင့်စက်ပစ္စည်းများအတွက်သာ အကောက်ခွန် ကင်းလွတ်ခွင့်ခံစားနိုင်မည်ဖြစ်ကြောင်း စိစစ်တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ သြစတြေးလျနိုင်ငံ Titeline Myanmar Pty Ltd. မှ ၇၀% နှင့် မြန်မာနိုင်ငံ Valentis Group Limited မှ ၃၀% ဖြင့် မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Titeline Valentis Limited တည်ထောင်၍ Providing of Drilling Services to the Mining Industry (ခေတ်မီစက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာလုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း)အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းကိစ္စအပေါ် ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ

နောက်ဆက်တွဲ(က)

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်.၃၁၁၅၅
ရက်စွဲ...၄.၁၂.၁၅
ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာ လ ၄ ရက်

သို့

M4-833
8.12.2015

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈. ၁၁. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၅(သ)/ ၀၀၈ / ၂၀၁၅ (၄၀၈)

၁။ ဩစတြေးလျနိုင်ငံ Titeline Myanmar Pty Ltd. မှ ၇၀%နှင့် မြန်မာနိုင်ငံ Valentis Group Limited မှ ၃၀%ဖြင့် နိုင်ငံခြားကုမ္ပဏီ Titeline Valents Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ လှိုင်ရတနာအိမ်ရာ၊ သဇင်(၁)လမ်း၊ အမှတ် C4၊ (၄၅၂၃ စတုရန်းပေ)ရှိ အဆောက်အဦအား ငှားရမ်း၍ Provision of Drilling Services to the Mining Industry (ခေတ်မီစက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ် ရှာဖွေခြင်းဆိုင်ရာလုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း)ကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၃၅)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ လှိုင်ရတနာအိမ်ရာ၊ သဇင်(၁)လမ်း၊ အမှတ် C4၊ (၄၅၂၃ စတုရန်းပေ)ရှိ အဆောက်အဦအား တစ်နှစ်လျှင် ၁ စတုရန်းမီတာအတွက် (USD 40)နှုန်းဖြင့် (၁)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/54,(7)

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၂၇. ၁၁. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅၄/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၄)အရ Titeline Valents Limited ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Titeline Valents Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/54.(8)

နောက်ဆက်တွဲ(ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**
**မန္တလေးမြို့**

စာအမှတ်၊ ၂/ ၃ - ၆ / ၃၂ ဦး ၆( ၀၁၁ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားပြန်ကြားခြင်း**

ရည်ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၁၈.၁၁.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက - ၅(သ) / ၀၀၈ / ၂၀၁၅ (၄၀၇)

၁။ သြစတြေးလျနိုင်ငံ Titeline Myanmar Pty Ltd. မှ ၇၀%နှင့် မြန်မာနိုင်ငံ Valentis Group Limited မှ ၃၀%ဖြင့် ချမ်းအေးသာစံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (A - ၁ - က)၊ မြေကွက်အမှတ်(၃)ရှိ မြေဧရိယာ(၀.၃၂၁၈)ဧကကို ငှားရမ်း၍ နိုင်ငံခြားကုမ္ပဏီ Titeline Valents Limited တည်ထောင်ကာ Provision of Drilling Services to the Mining Industry (ခေတ်မီစက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော် စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း)အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထား စိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာနှင့်ပတ်သက်၍ စိစစ်ခဲ့ရာ တင်ပြလျှောက်ထားသည့် မြေသည် ချမ်းအေးသာစံမြို့နယ်၊ ကန်ကောက်ရပ်ကွက်အကွက်အမှတ်(A၁-က)၊ဦးပိုင်အမှတ်(၃)၊ ဧရိယာ(၀.၃၂၁၈)ဧကဖြစ်ပြီး ဦးလမင်းဝင်း အမည်ဖြင့် အမှတ်စွဲအမှတ်(၀၃၁၈/၂၀၁၄-၂၀၁၅)အရ (၁၀.၆.၂၀၁၄) မှ (၉.၆.၂၀၂၄)ရက်နေ့အထိ (၁၀) နှစ် သက်တမ်းဂရန် ထုတ်ပေးထားသော မြေကွက် ဖြစ်ကြောင်း၊ ၂၆ လမ်း၊ ၅၅×၅၆ လမ်းကြားတွင် တည်ရှိကာ ဂရန်အမည်ပေါက်သူထံမှ ကုမ္ပဏီ က မြေငှားရမ်း စာချုပ်ဖြင့် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်းနှင့် အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် ၂၆ လမ်း၊ ၅၅×၅၆ လမ်းကြားတွင် တည်ရှိကာ လူနေရပ်ကွက်အတွင်းပါရှိပြီး မြေငှားဂရန် ထုတ်ပေးထားသည့် မြေနေရာဖြစ်ပါသဖြင့် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းနှင့် လွတ်ကင်းပြီး မြို့ပြစီမံကိန်းကိုလည်း ထိခိုက်ခြင်းမရှိပါကြောင်း ၊

(ခ) ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာလုပ်ငန်းများအတွက် သတ္တုတူးဖော် စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်သဖြင့် မြို့နယ်ဒေသအလုပ်အကိုင်၊ အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထိုက်အလျောက် အထောက်အကူဖြစ်နိုင်ပါကြောင်း၊

(ဂ) စက်မှုလုပ်ငန်းရှင်များအနေဖြင့် တိုင်းဒေသကြီးစက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန၏ ဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊ ဒေသန္တရအမိန့်နှင့် ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဆိုပါက ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှု ရှိပါကြောင်း ။

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် သီးခြားအကြံပြုရန်မရှိပါ ။

၃။ သို့ဖြစ်ပါ၍ ချမ်းအေးသာစံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(A-၁-က)၊ မြေကွက်အမှတ်(၃)ရှိ မြေဧရိယာ(၀.၃၂၁၈)ဧကကို ငှားရမ်း၍ နိုင်ငံခြားကုမ္ပဏီ Titeline Valents Limited တည်ထောင်ကာ Provision of Drilling Services to the Mining Industry (ခေတ်မီ စက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း)အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး (၇.၁.၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ်(၅)အရ **ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ထိခိုက်စေသည့် ကိစ္စရပ်များမရှိပါက** ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

မိတ္တူကို

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPF-5440
3.12.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၃၃၈၂ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

MH-813
4.12.2015

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၈-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၅(သ) / ၀၁၈ / ၂၀၁၅ (၄၀၅)

၁။ ဩစတြေးလျနိုင်ငံ Titeline Myanmar Pty Ltd.မှ ၇၀%နှင့် မြန်မာနိုင်ငံ Valentis Group Limited မှ ၃၀% ဖြင့် နိုင်ငံခြားကုမ္ပဏီ Titeline Valentis Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ လှိုင်ရတနာအိမ်ရာ၊ သဇင်(၁)လမ်း၊ အမှတ် C-4 ရှိ အဆောက်အဦနှင့် မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာစံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် A - ၁ - က၊ မြေကွက်အမှတ် ၃ ရှိ မြေ (၀.၃၂၁၈) ဧက (၁၃၀၂.၂၈ စတုရန်းမီတာ) အား ငှားရမ်း၍ Provision of Drilling Services to the Mining Industry (ခေတ်မီစက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်း)ကို ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ စိစစ်ရာတွင် အသုံးပြုမည့် ယာဉ်များအား စနစ်တကျ မောင်းနှင်ခြင်းမရှိပါက လမ်းများပျက်စီးနိုင်ခြင်း၊ ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် ဆူညံသံ၊ စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်မြေထု၊ ရေထု၊ လေထုနှင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ ယာဉ်/ယန္တရားများ၏ သန့်ရှင်းရေးဆောင်ရွက်ခြင်း၊ ပြန်လည်ပြင်ဆင်ခြင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းအစိုင်အခဲ၊ အရည် စသည်တို့ကို စနစ်တကျစီမံခန့်ခွဲမှု မပြုလုပ်ပါက ပတ်ဝန်းကျင်ရှိ ရေထု၊ လေထု၊ မြေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း စသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၃။ သို့ဖြစ်ပါ၍ Titeline Valentis Ltd. မှ ခေတ်မီစက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ တစ်ဖက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် အသားတင် အမြတ်ငွေ၏ (၂%) အား အသုံးပြုရန်အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan – EMP ) အား ဒေသတစ်ခုချင်းစီအတွက် သီးခြားစီရေးဆွဲ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေး အစီအစဉ်အား ထည့်သွင်းရေးဆွဲရန်နှင့် အစီအစဉ်ပါအတိုင်းဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ် အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားရယူဆောင်ရွက်ရန်။

၂/၂၁

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

D:\DKWWT\DSSY\Dec (CD)\REVA\Reva.doc2

နောက်ဆက်တွဲ-ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန်ကြီးရုံး**

နေပြည်တော်

စာအမှတ်၊ ၁၇ ခွဲ (၅) ၁၅ ( ၁၀၆၅၀ )

ရက်စွဲ၊ ၂၀၁၅ခုနှစ်၊အောက်တိုဘာလ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉.၉.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက – ၅ (န) / ထွေ / ၂၀၁၅ (၃၀၁)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရည်ညွှန်းစာပါ Titeline Valentis Limited မှ အဆိုပြုလုပ်ငန်းအမျိုးအစားဆောင်ရွက်ခွင့်နှင့်ပတ်သက်၍ မြန်မာ့သတ္တုတွင်းဥပဒေ၊နည်းဥပဒေများနှင့်အညီဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

သတ္တုတွင်းဝန်ကြီးဌာန

(ဌေးအောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊သတ္တုတွင်းဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ဘူမိဗေဒလေ့လာရေးနှင့်ဓာတ်သတ္တုရှာဖွေရေးလုပ်ငန်း

နောက်ဆက်တွဲ-၈

**မန္တလေးတိုင်းဒေသကြီးအစိုးရ**

**မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ**

**မန္တလေးမြို့**

စာအမှတ်၊ ၁၀၀၁/ ၁ / အထထ ( ၂၃၂၉ )

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁ ရက်

1444-822
7.12.2015

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၅/(သ)/၀၀၈/၂၀၁၅(၄၀၆)

P-1308
4.12.15

၁။ ဩစတြေးလျနိုင်ငံ Titeline Myanmar Pty Ltd. မှ ၇၀% ၊ မြန်မာနိုင်ငံ Valentis Group Limited မှ ၃၀% ဖြင့် နိုင်ငံခြားကုမ္ပဏီ Titeline Valentis Limited တည်ထောင်ကာ မန္တလေးတိုင်းဒေသကြီး၊ ချမ်းအေးသာစံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် A-၁-က၊ မြေကွက်အမှတ်(၃)ရှိ မြေ(၀.၃၂၁၈)ကေအား ငှားရမ်း၍ Provision of Drilling Services to the Mining Industry ခေတ်မီစက်ယန္တရားများကိုအသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာလုပ်ငန်းများအတွက် သတ္တုတူးဖော်စမ်းသပ်သည့်ဝန်ဆောင်မှုလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုတင်ပြလာခြင်းအပေါ် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီသို့ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါလုပ်ငန်းဆောင်ရွက်မည့်မြေနေရာသည် ချမ်းအေးသာစံမြို့နယ်၊ ကန်ကောက်ရပ်ကွက်(လူနေရပ်ကွက်အတွင်း)တည်ရှိသဖြင့် စက်ရုံဆောက်လုပ်မည်ဆိုပါက ခွင့်မပြုနိုင်ကြောင်း၊ အရောင်းပြခန်းပြုလုပ်မည်ဆိုပါက ခွင့်ပြုနိုင်ပါကြောင်းနှင့် မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်းပြန်ကြားအပ်ပါသည်။

5/D/AAH/PM(134)

ဥက္ကဋ္ဌ( )

(သက်နိုင်ထွန်း၊ တွဲဖက်အတွင်းရေးမှူး)

TITELINE VALENTIS DRILLING MYANMAR

27 January 2016

The Chairman
The Myanmar Foreign Investment Commission
Yangon
The Republic of the Union of Myanmar

**Subject: Proposal from the Promoter for mining services project in Myanmar**

Your Excellency,

Titeline Valentis Company Limited (the Company) has been incorporated in Myanmar as a private limited liability company. The Company is a wholly foreign owned entity (incorporated in Myanmar). The Company obtained the Certificate of Incorporation and Form of Permit No. 1193 FC/2014 - 2015 dated 5th May 2015. The Company also made an initial capital remittance of amount US$650,000 on April 2015.

The Company is owned by two shareholders, being, Titeline Myanmar Pty Ltd with a shareholding ratio of 70% represented by Mr. William Ricciardi, and Valentis Group Limited with a shareholding ratio of 30% represented by Mr. Michael Phin. The Company combines a global world class exploration drilling service provider with Valentis' in depth market knowledge and expertise in Myanmar's mining service sector.

The Company provides various drilling services to the mining industry, including mineral resource exploration and production drilling using the latest drilling rigs.

This investment will be promoted by Mr. William Ricciardi on behalf of Titeline Myanmar Pty Ltd and Mr. Michael Phin on behalf of Valentis Group Limited.

**GLOBAL PROFILE**

***Titeline Myanmar Pty Ltd (Titeline)***

Titeline was founded in 2007 as an evolution from its previous entity, Great Southern Drilling Company, founded in 2001. Titeline is a leading Australian exploration drilling company with operations throughout the Asia-Pacific region. Titeline services all parts of Australia and the Asia Pacific from its fully equipped workshop and administration facilities in Ballarat, Australia. Titeline's current operations are in Australia, Papua New Guinea, Mongolia, Fiji, Indonesia and of course, Myanmar.

Titeline specialises in deep directional drill diamond coring, reverse circulation exploration and grade control all whilst using state of the art drill rigs, electronic survey equipment and computerized hole planning. The senior management of Titeline also have extensive experience in stratigraphic slimhole core drilling. Titeline is a high quality, progressive company, which is known for its professionalism and relishes working in remote and challenging environments. Titeline is also Australia's safest drilling company.

Titeline enjoys a significant share of exploration drilling in Australia and the Asia pacific region, particularly on large scale drill outs of new deposits. Some examples are the Prominent Hill copper

gold deposit in South Australia, the Carapateena copper gold deposit in South Australia and the Wafi Golpu copper gold deposit in Papua New Guinea.

On these three projects alone Titeline Drilling has drilled in excess of half a million metres and Titeline drills have delineated over 50 million ounces of gold and millions of tonnes of copper. Titeline employs between 100 and 600 employees (project dependent) throughout the Asia-Pacific region. Titeline has a pool of highly experienced drillers who maintain its stringent safe working standards in complex cultural environments.

### *Valentis Group Limited (Valentis)*

Valentis was founded in 2015 as a mining services company. Valentis provides mining services throughout Myanmar in relation to geological exploration and surveys, opportunity sourcing, performance improvement and transaction management.

The Valentis team comprises both Australian and local geologists, engineers and metallurgists. To date, Valentis has visited over 50 mine sites for both Myanmar and foreign companies. Valentis employs or contracts over 20 professionals from both Australia and Myanmar.

### *The Company*

The Company is based in Myanmar and is one of a small number, if not the only, international drilling and exploration companies which uses international best practice in undertaking its operations. The Company has a fleet of over 40 diamond core, man portable and reverse-circulation rigs capable of drilling to depths of up to 3,000 metres.

The Company intends to import 19 rigs at a cost of US$21.6 million as the industry grows. The Company intends to employ 50 Myanmar nationals in the first year with up to 288 employees for this project. The Company is committed to train its Myanmar nationals using its internationally accepted skills and development training program.

## CRITICAL NEED FOR THE COMPANY'S SERVICES

We believe various factors including the planned revision of Myanmar's mining laws will lead to technology and growth in the exploration and mining production sector in Myanmar in the coming years. Critical to the successful development of this sector is a mining service sector that applies international best practice in undertaking its activities.

To develop an internationally competitive and sustainable minerals industry in Myanmar as such it is vital to have a pool of highly competent and skillful Myanmar nationals who can help to build this industry.

We firmly believe our safe, efficient and socially and environmentally responsible manner of conducting operations will play a vital role in the early development of the sector. As a demonstration of our commitment to Myanmar's exploration and mining industry we have committed to bring our

high technology and advanced operational methodologies to Myanmar at this early stage of the mining industry's development.

**CAPITAL INVESTMENT AND EMPLOYMENT GENERATION BY THE COMPANY**

The Company will be deploying a total investment of US$26.7 million over a ten year period.

The investment will directly and indirectly create about 288 job opportunities. The investment will also develop a strong base of technically skilled manpower working with internationally recognized drilling processes and practices.

**COMMUNITY APPROACH**

The Company pays the highest attention to CSR, and multiple approaches will be employed for the best interests of both the community and the project. CSR has become an essential aspect of businesses today and is also a core concept that needs to be incorporated in an organization to ensure that it can compete with other international organizations.

Key to the success of the Company as a market leader in the mining services industry will be the early training and development of Myanmar nationals at all levels of the organization. Our advanced and compact technology means minimal environmental impact.

**CSR Contribution**

The Company, as a market leader in the Myanmar drilling and exploration industry for mining and resources, always adopts an eco-friendly program by carrying out environmentally-friendly activities, environmental green management, and waste and recycling management to maintain the highest environmental standards both internally in the workplace and externally in the community.

We believe it is our responsibility to support the local community and we commit to allocating 2% of our net profit to CSR projects in Myanmar.

**FINANCIAL CONTRIBUTION**

As projected, it is estimated that the Company will pay tax revenue to the Myanmar government over a 10-year period of approximately US$3.8 million (this is including the 5-year tax holiday as per the Foreign Investment Law).

We greatly appreciate your consideration and look forward to your favorable reply.

Yours faithfully,

Signature:........................................
Name: Mr. Michael Phin
Promoter/ Director
Titeline Valentis Company Limited

Titeline Valentis Company Limited
C4, Thazin (1) St, Hlaing Yadanar Housing
Hlaing Township, Yangon, Myanmar
myanmar@valentisresources.com
www.valentisresources.com

TITELINE VALENTIS DRILLING MYANMAR

The Chairman
The Myanmar Foreign Investment Commission
Yangon
The Republic of the Union of Myanmar

Date:

**Subject: Explanation of business activities**

Your Excellency,

Titeline Valentis Limited (the Company) has been incorporated in Myanmar as a private limited liability company. The Company is a wholly foreign owned entity (incorporated in Myanmar). The Company obtained the Certificate of Incorporation and Form of Permit No. 1193 FC/2014 - 2015 dated 5th May 2015.

Business activities of Titeline Valentis Limited are as follow- **Providing of drilling services to the mining industry**. The Company provides various drilling services to the mining industry, including mineral resource exploration and production drilling using the latest drilling rigs.

Please refer to the detail explanation in relation to business activities of the company in Myanmar language as below.

ခေတ်မှီစက်ယန္တရားများကို အသုံးပြု၍ သတ္တုတူးဖော်ခြင်း၊ စမ်းသပ်ရှာဖွေခြင်းဆိုင်ရာ လုပ်ငန်းအတွက် သတ္တုတူးဖော် စမ်းသပ်သည့် ဝန်ဆောင်မှု လုပ်ငန်းများ ဆောင်ရွက်ခြင်း။

We greatly appreciate your consideration and look forward to your favorable reply.

Yours faithfully,

Name: Mr. Michael Phin
Promoter/ Director
Titeline Valentis Limited

Titeline Valentis Company Limited
C4, Thazin (1) St, Hlaing Yadanar Housing
Hlaing Township, Yangon, Myanmar
myanmar@valentisresources.com
www.valentisresources.com

Form (1)

**Proposal Form of Investor/Promoter for the investment to be made in the Republic of the Union of Myanmar**

To,

**Chairman**

**Myanmar Investment Commission**

Reference No.
Date.

I do apply for the permission to make investment in the Republic of the Union of Myanmar in accordance with the Foreign Investment Law by furnishing the following particulars:-

1. The Investor's or Promoter's:-

(a) Name **Mr. Michael Bui Phin**

(b) Father's name **Mr. Bui Phin**

(c) ID No./National Registration Card No./Passport No. **N2037497**

(d) Citizenship **Australian**

(e) Address:

(i) Address in Myanmar **C4 Thazin Street, Hlaing Yadanar Housing, Hlaing Township, Yangon Myanmar**

(ii) Residence abroad **6 Yangalla Street, Marsfield Sydney NSW 2122, Australia**

(f) Name of principle organization **Valentis Group Limited**

(g) Type of business **Mining services company including drilling services**

(h) Principle company's address: **C4 Thazin Street, Hlaing Yadanar Housing, Hlaing Township, Yangon Myanmar**

2. If the investment business is formed under Joint Venture, partners' :-

(a) Name

(b) Father's name

(c) ID No./ National Registration Card No./Passport No.

(d) Citizenship

(e) Address:

(i) Address in Myanmar

(ii) Residence abroad

(f) Parent company ..........

(g) Type of business ..........

(h) Parent company's address:

..........

**Remark:** The following documents need to attach according to the above paragraph (1) and (2):-

(1) Company registration certificate (copy);
(2) National Registration Card (copy) and passport (copy);
(3) Evidences about the business and financial conditions of the participants of the proposed investment business;

**Refer to Section 2**

3. Type of proposed investment business:-

(a) Manufacturing **N/A**

(b) Service business related with manufacturing **N/A**

(c) Service **Providing of drilling services to the mining industry**

(d) Others **N/A**

**Remark:** Expressions about the nature of business with regard to the above paragraph (3)

4. Type of business organization to be formed:-

(a) One hundred percent **See Annex 1**

(b) Joint Venture:
(i) Foreigner and citizen **N/A**

(ii) Foreigner and Government department/organization **N/A**

(c) By contractual basis:
(i) Foreigner and citizen **N/A**

(ii) Foreigner and Government department/organization **N/A**

**Remark:** The following information needs to attach for the above Paragraph (4):-
(i) Share ratio for the authorized capital from abroad and local, names, citizenships, addresses and occupations of the directors;
(ii) Joint Venture Agreement (Draft) and recommendation of the Union Attorney General Office if the investment is related with the State;
(iii) Contract (Agreement) (Draft)

**Refer to Section 2**

5. Particulars relating to company incorporation

| | | |
|---|---|---|
| (a) | Authorized capital | **US$ 50,000 (To be increased to US$ 9m)** |
| (b) | Type of share | **Ordinary** |
| (c) | Number of shares | **50,000** |

**Remark:** Memorandum of Association and Articles of Association of the Company shall be submitted with regard to above paragraph 5. **Refer to section 2**

6. Particulars relating to capital of the investment business

| | | US$ (Million) | Kyat (million) |
|---|---|---|---|
| (a) | Amount/percentage of local capital to be contributed | - | |
| (b) | Amount/percentage of foreign capital to be brought in | 26.74 | 26,740 |
| | **Total** | **26.74** | **26,740** |

| | | |
|---|---|---|
| (c) | Annually or period of proposed capital to be brought in | **Annually** |
| (d) | Last date of capital brought in | **Year 10 (2025)** |
| (e) | Proposed duration of investment | **10 years** |
| (f) | Commencement date of construction | **Since the issuance of MIC permit** |
| (g) | Construction period | **2 years from MIC approval date** |

**Remark:** Describe with annexure if it is required for the above Para 6 (c)

7. Detail list of foreign capital to be brought in -

| | | Foreign Currency (US$ Million) | Equivalent Kyat (Million) |
|---|---|---|---|
| (a) | Foreign currency (Type and amount) | 1.90 | 1,900 |
| (b) | Machinery and equipment and value (to enclose detail list) | 24.84 | 24,840 |
| (c) | List of initial raw materials and value (to enclose detail list) | N/A | N/A |

| | | |
|---|---|---|
| (d) Value of licence, intellectual property, industrial design, trade mark, patent rights, etc. | N/A | N/A |
| (e) Value of technical know-how | N/A | N/A |
| (f) Others | N/A | N/A |
| **Total**** | **26.74** | **26,740** |

**Remark** The evidence of permission shall be submitted for the above para 7 (d) and (e).
***Note: 1US$ = 1,000 Kyats**

8. Details of local capital to be contributed - **N/A**

| | **Kyat (Million)** |
|---|---|
| (a) Amount | **N/A** |
| (b) Value of machinery and equipment (to enclose detail list) | **N/A** |
| (c) Rental rate for building/land | **N/A** |
| (d) Cost of building construction | **N/A** |
| (e) Value of furniture and assets (to enclose detail list) | **N/A** |
| (f) Value of initial raw material requirement (to enclose detail list) | **N/A** |
| (g) Others | N/A |
| **Total** | **N/A** |

9. Particulars about the investment business -

   (a) Investment location(s)/place **Lot No.3, Block No. A-1- Ka, Chan Aye Tharzan Township, Mandalay, Myanmar**

   (b) Type and area requirement for land or land and building:

   (i) Location **Lot No.3, Block No. A-1- Ka, Chan Aye Tharzan Township, Mandalay, Myanmar**

   (ii) Number of land/building and area ..........

